ကန့်သတ်

# Hein AKK International Company Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

## ပင်လယ်ငါးများအား အေးခဲ၍ ပြည်ပသို့ ၁၀၀ % တင်ပို့ခြင်းနှင့် ရေခဲထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက် တင်ပြလာခြင်း | | ၁၆-၃-၂၀၂၀ | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၁၁/၂၀၂၀ (၂၃-၃-၂၀၂၀) | | |
| ၃ | အဆိုပြုချက်အားလက်ခံကြောင်း ပြန်ကြားခြင်း | ၂၆-၃-၂၀၂၀ | | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေး ဆုံးဖြတ်ချက်အရ ပြင်ဆင်တင်ပြရန် အကြောင်းကြားခြင်း | ၁-၄-၂၀၂၀ | ၅-၅-၂၀၂၀ | |
| ၅ | သက်ဆိုင်ရာဝန်ကြီးဌာနများသို့သဘောထား တောင်းခံခြင်း<br>- တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၂၆-၃-၂၀၂၀ | ၂၉-၅-၂၀၂၀ | |
| | - ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန(OSS) သို့ သဘောထား တောင်းခြင်း | ၂၆-၃-၂၀၂၀ | ၉-၄-၂၀၂၀ | |
| ၆ | အဆိုပြုချက်အား ပြန်လည်ပေးပို့ခြင်း | ၁-၆-၂၀၂၀ | | တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ သဘောထား ပြန်ကြား လာမှု မရှိခြင်း နှင့် အဆိုပြုချက် မှာ ရက်ပေါင်း ၆၀ ပြည့်ပြီး ဖြစ်သဖြင့် အဆိုပြုချက်ပြန်လည် ပေးပို့ခြင်းဖြစ်ပါသည်။ |
| ၇ | ကုမ္ပဏီမှ အဆိုပြုချက် ပြန်လည်တင်ပြခြင်း | ၅-၆-၂၀၂၀ | | တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ သဘောထား ပြန်ကြားလာသဖြင့် အဆိုပြုချက် ပြန်လည်တင်ပြခြင်းဖြစ်ပါသည်။ |

| | | | | |
|---|---|---|---|---|
| ၈ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၈/၂၀၂၀<br>၁၈-၆-၂၀၂၀ | | |
| | စုစုပေါင်းကြာမြင့်ရက် | ၁၄ ရက် | | |

# အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် Hein AKK International Company Limited

လုပ်ငန်းအမျိုးအစား ပင်လယ် ငါးများအား အေးခဲ၍ ပြည်ပသို့ ၁၀၀ % တင်ပို့ခြင်းနှင့် ရေခဲ ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း

PATအကြိမ်/နေ့စွဲ ၁၁/၂၀၂၀ (၂၃-၃-၂၀၂၀)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု<br>ပြီး ✓<br>မပြီး X | မှတ်ချက် |
|---|---|---|---|
| ၁ | လုပ်ငန်းအမျိုးအစား ပြင်ဆင်တင်ပြရန်။ | ✓ | |
| ၂ | မြေငှားစာချုပ် အပိုဒ် ၁၄ အငြင်းပွားမှုဖြေရှင်းခြင်း အင်္ဂလိပ် ဘာသာတွင် Myanmar Arbitration Law 2016 ဟု ဖော်ပြပေးရန်။ | ✓ | |
| ၃ | မြေကွက်အရောင်းအဝယ်စာချုပ်နှင့် ပတ်သက်၍ Special Power (SP) တင်ပြပေးရန်။ | ✓ | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် **Hein AKK International Co., Ltd.** မှ ပင်လယ် ငါးများအား အေးခဲ၍ ပြည်ပသို့ ၁၀၀ % တင်ပို့ခြင်းနှင့် ရေခဲထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Hein AKK International Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးကျော်စိုးသိန်း |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Hein AKK Co., Ltd. (Myanmar) ၅၅ %<br>- Haimruangngern Sea Port Co., Ltd. (Thailand) ၄၅ % |
| | လုပ်ငန်းအမျိုးအစား | - ပင်လယ် ငါးများအား အေးခဲ၍ ပြည်ပသို့ ၁၀၀ % တင်ပို့ခြင်း နှင့် ရေခဲ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း (Freezing of Marine Fish For 100% Export and Sales Of Ice Block) |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်- ၅၇ နှင့် ၅၈၊ ကွင်းအမှတ်- ၁- OSS၊ ကလွင် ကြေးတိုင်ပြင်ကွင်း၊ ကလွင်ကျေးရွာအုပ်စု၊ မြိတ်မြို့နယ်၊ မြိတ်ခရိုင်၊ တနင်္သာရီတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - Hein AKK Co., Ltd. |
| | မြေအကျယ်အဝန်း | - ဦးပိုင်အမှတ်- ၅၇ နှင့် ၅၈ ရှိ စုစုပေါင်း မြေ ၅.၉၁ ဧက အနက်မှ ၃.၈၅ ဧက |
| | အဆောက်အဦ<br>အကျယ်အဝန်း | - Ice Factory (၂၁၉ ပေ x ၁၄၄ ပေ)<br>Generator House (၅၀ ပေ x ၁၀၀ ပေ) |
| ၄။ | နှစ်စဉ် မြေငှားရမ်းခ | - တစ်နှစ် တစ်ဧကလျှင် ကျပ် ၁၂,၀၀၀,၀၀၀ နှုန်းဖြင့် ၃.၈၅ ဧက အတွက် ကျပ် ၄၆,၂၀၀,၀၀၀ |
| | မြေငှားရမ်း အသုံးပြုခွင့် သက်တမ်း | - ကနဦး ၁၅ နှစ် |
| ၅။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လို သည့်သက်တမ်း | - ကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၂ နှစ်နှင့် ၆ လ |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | - အမေရိကန်ဒေါ်လာ ၆.၀၀၀ သန်း (အမေရိကန်ဒေါ်လာ ၂.၇၀၀ သန်းအပါအဝင်) |

ထည့်ဝင်သည့်အမျိုးအစား

| | | ပြည်ပ (US$/သန်း) | ပြည်တွင်း (US$/သန်း) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၀.၂၀၈ | ၀.၆၉၀ | ၀.၈၉၈ |
| (ခ) | စက်ပစ္စည်း ကိရိယာ | | ၁.၁၄၇ | ၁.၁၄၇ |
| (ဂ) | မြေငှားရမ်းခ | | ၀.၄၅၂ | ၀.၄၅၂ |
| (ဃ) | ဆိပ်ခံတံတားနှင့် အဆောက်အအုံ ဆောက်လုပ်မှု ကုန်ကျစရိတ် | | ၀.၆၅၃ | ၀.၆၅၃ |
| (င) | ပရိဘောဂနှင့် လုပ်ငန်းများပစ္စည်းတန်ဖိုး | | ၀.၃၅၈ | ၀.၃၅၈ |
| (စ) | အခြား | ၂.၄၉၂ | | ၂.၄၉၂ |
| | စုစုပေါင်း | ၂.၇၀၀ | ၃.၃၀၀ | ၆.၀၀၀ |

၇။ ဝန်ထမ်းအင်အား
- စုစုပေါင်း ၅၆ ဦး

ပြည်တွင်း
- ၅၆ ဦး (ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ ၂၀၀,၀၀၀ ကျပ် ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ၅၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။

၈။ ရောင်းချမည့်စနစ်
- ပြည်ပ ၁၀၀%

နှစ်စဉ်ထုတ်လုပ်မှု(ပုံမှန်နှစ်)

| စဉ် | အမျိုးအစား | အရေအတွက် | ရောင်းချမည့် ဈေးနှုန်း |
|---|---|---|---|
| (က) | ငါးရွှေ | ၅၀,၀၀၀ (kg) | ၂,၇၅၀ (ကျပ်/ kg) |
| (ခ) | ငါးပုလွေ | ၅၀,၀၀၀ (kg) | ၁,၂၁၀ (ကျပ်/ kg) |
| (ဂ) | ငါးတံခွန် | ၅၀,၀၀၀ (kg) | ၂,၂၀၀ (ကျပ်/ kg) |
| (ဃ) | ငါးဗျက် (ခေါင်းပွ) | ၅၀,၀၀၀ (kg) | ၁,၉၂၅ (ကျပ်/ kg) |
| (င) | ငါးဗျက် | ၅၀,၀၀၀ (kg) | ၁,၄၈၅ (ကျပ်/ kg) |
| (စ) | ငါးနီ | ၅၀,၀၀၀ (kg) | ၁,၄၃၀ (ကျပ်/ kg) |
| (ဆ) | ငါးခွေးလျှာ | ၅၀,၀၀၀ (kg) | ၁,၃၇၅ (ကျပ်/ kg) |
| (ဇ) | Ice Block(lbs) | ၂၃၄,၀၀၀,၀၉၀ (lb) | ၁၂.၇၅ (ကျပ်/ lb) |

၉။ လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်)
- ကိုယ်ပိုင် Generator ဖြင့် အသုံးပြုမည်ဖြစ်ကြောင်းဖော်ပြထားပါသည်။

၁၀။ အခြားတင်ပြချက်
- မြေအထောက်အထားအဖြစ် ဦးအောင်စိုးအမည်ဖြင့် လယ်ယာမြေအခြားနည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့် ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့မှ ထုတ်ပေးထားသည့် ခွင့်ပြုမိန့်အားတင်ပြထားပါသည်။

| | | |
|---|---|---|
| | | - ဦးအောင်စိုးအမည်ဖြင့် ရေလုပ်ငန်းနှင့် ဆိုင်သောလုပ်ငန်း အသုံးပြုရန် မြေနေရာအတွက် လယ်ယာမြေအား အခြားနည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့် ရရှိထားပြီး ဦးအောင်စိုးမှ Hein AKK Co., Ltd. သို့ ရောင်းချထားသည့် နှစ်ဦးသဘောတူ မြေကွက်အရောင်းအဝယ် စာချုပ်အား တင်ပြထားပါသည်။<br>- ဦးအောင်စိုးကိုယ်စား Hein AKK Co., Ltd. ၏ အုပ်ချုပ်မှု ဒါရိုက်တာဖြစ်သူ ဦးကျော်သိန်းစိုးအား လယ်ယာမြေ စီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာနတို့တွင် မြေပုံရာဇဝင် ရေးကူးခြင်း၊ မြိတ်မြို့စာချုပ်စာတမ်းများ မှတ်ပုံတင်ရုံးတွင် မြေငှားရမ်းခြင်း၊ အရောင်းအဝယ်စာချုပ်မှစ၍ အခြားလိုအပ်သည့် စာချုပ်စာတမ်းများ ချုပ်ဆိုခြင်း၊ တရားရုံးအဆင့်ဆင့်နှင့် အခြားအစိုးရရုံးဌာန အသီးသီးတို့တွင် ယင်းမြေကွက်နှင့် ပတ်သက်၍ လိုအပ်သည်များကို လျှောက်ထားခြင်း၊ တရားစွဲဆိုခြင်း၊ ခုခံခြင်း၊ ငြင်းဆိုခြင်း၊ ဝန်ခံခြင်း၊ လက်မှတ် ရေးထိုးခြင်းမှစ၍ ဆောင်ရွက်ရန် ရှိသည့် ကိစ္စအဝဝကို ပြုလုပ်ဆောင်ရွက်ရန်အတွက် အထူးကိုယ်စားလှယ်အဖြစ် လွှဲအပ်ထားသည့် စာချုပ်အား တင်ပြထားပါသည်။<br>- Hein AKK Co., Ltd. မှ Hein AKK International Co., Ltd. သို့ မြေငှားရမ်းခြင်းနှင့်ပတ်သက်၍ ဦးအောင်စိုးမှ ကန့်ကွက်ရန် မရှိကြောင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြ ထားပါသည်။<br>- Hein AKK Co., Ltd. နှင့် Hein AKK International Co., Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)၊ ဖက်စပ်စာချုပ် (မူကြမ်း)၊ တည်နေရာပြမြေပုံ၊ အဆောက်အဦ Layout Plan နှင့် Jetty Layout Plan တို့ကိုတင်ပြထားပါသည်။<br>- Hein AKK International Co., Ltd. ၏ ဒါရိုက်တာများ၏ Passport မိတ္တူများတင်ပြထားပါသည်။<br>- Hein AKK International Co., Ltd. ၏ ကုမ္ပဏီကတ်မိတ္တူ ဒါရိုက်တာများစာရင်း၊ Company Extract စာရွက်စာတမ်းများ တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - Hein AKK International Co., Ltd. နှင့် Hein AKK Co., Ltd. တို့၏ နှစ်ချုပ်စာရင်းရှင်းတမ်းမှာ အခွန်ကိစ္စများ ရှင်းလင်းဆဲ ဖြစ်သောကြောင့် တင်ပြနိုင်ခြင်း မရှိသေးပါကြောင်း မေတ္တာရပ်ခံသည့် စာအားတင်ပြထားပါသည်။<br>- Haimruangngern Sea Port Co., Ltd. အမည်ဖြင့် ၃၁-၁၂-၂၀၁၈ ရက်နေ့တွင် စာရင်းပိတ်လက်ကျန် ထိုင်းဘတ် ၃၅,၅၀၈,၄၇၃ ရှိကြောင်း Financial Statement တင်ပြ ထားပါသည်။<br>- ငွေရေးကြေးရေးအထောက်အထားအဖြစ် ဧရာဝတီဘဏ်တွင် ဦးကျော်သိန်းစိုး၊ ဦးအောင်စိုး၊ Mr. Sittipong Haimruangngernနှင့် Hein AKK International Co., Ltd. အမည်များဖြင့် ၆-၃-၂၀၂၀ရက်နေ့အထိ အမေရိကန်ဒေါ်လာ ၁,၀၀၀,၀၉၈.၅၀ ကိုတင်ပြထားပါသည်။<br>တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်၊ ယောကြီးဝချောင်း အတွင်း ဆိပ်ခံတံတား (၁) စင်းတည်ဆောက်ခွင့် ပြုပါရန် ဦးအောင်စိုးမှ လျှောက်ထားလာခြင်းအား (၅-၄-၂၀၁၉) ရက်နေ့တွင် ကျင်းပပြုလုပ်သောပို့ဆောင်ရေးနှင့် ဆက်သွယ် ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေး အမှတ်စဉ် (၅/၂၀၁၉)တွင် အတည်ပြုပြီး ဖြစ်ပါသဖြင့် ရေအရင်း အမြစ် နှင့် မြစ်ချောင်းများထိန်းသိမ်းရေး ဥပဒေအရ ပေးအပ်ထားသော အခွင့်အာဏာကျင့်သုံး၍ သတ်မှတ်အခွန်အခများ ပေးသွင်းရန် ရေအရင်းအမြစ်နှင့် မြစ်ချောင်းများ ဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန၊ နေပြည်တော်မှ တနင်္သာရီတိုင်းဒေသကြီး ဦးစီးမှူးသို့ အကြောင်းကြားစာနှင့် ဦးအောင်စိုးမှ အခွန်အခများ ပေးဆောင်ပြီးကြောင်း တင်ပြထားသည့် စာအား တင်ပြထားပါသည်။ |

| | |
|---|---|
| ၁၀။ စိစစ်တင်ပြချက် | - Hein AKK International Co., Ltd. မှ ဝင်ငွေခွန် ထမ်းဆောင်မည့်အစီအစဉ်၊ ရေရယူမည့်အစီအစဉ်၊ လျှပ်စစ်ဓါတ်အား အသုံးပြုမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် CSR Project တို့ကိုတင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင်ပါဝင်ပြီး ISIC Code- 1020 တွင် အကျုံးဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဇုန် (၂)တွင် ပါဝင်ပါသည်။<br>- |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၂/ခ-ဝ၆၃/၂၀၂၀( ၁၃၆ )
ရက်စွဲ ၊ ၂၀၂၀ ပြည့်နှစ် ဇွန်လ ၈ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Hein AKK International Co., Ltd. မှ ပင်လယ်ငါးများအား အေးခဲ၍ ပြည်ပသို့ ၁၀၀ % တင်ပို့ခြင်းနှင့်ရေခဲ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

၁။ မြန်မာနိုင်ငံရှိ Hein AKK Co., Ltd. မှ (၅၅%) နှင့် ထိုင်းနိုင်ငံရှိ Haimruangngern Sea Port Co., Ltd. မှ (၄၅%) အစုရှယ်ယာ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထား သည့် Hein AKK International Co., Ltd. မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်-၅၇၊ ၅၈၊ ကွင်းအမှတ်-၁-OSS၊ ကလွင်ကြေးတိုင်ပြင်ကွင်း၊ ကလွင်ကျေးရွာအုပ်စု၊ မြိတ်မြို့နယ်၊ မြိတ်ခရိုင်၊ တနင်္သာရီတိုင်းဒေသကြီးရှိ စုစုပေါင်း မြေ ၅.၉၁ ဧက အနက်မှ ၃.၈၅ ဧကအား ငှားရမ်း၍ ပင်လယ်ငါးများအား အေးခဲ၍ ပြည်ပသို့ ၁၀၀ % တင်ပို့ခြင်းနှင့် ရေခဲထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ ဦးအောင်စိုးအမည်ဖြင့် လယ်ယာ မြေအခြားနည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့် ဗဟိုလယ်ယာ မြေစီမံခန့်ခွဲမှုအဖွဲ့မှ ထုတ်ပေးထားသည့် ခွင့်ပြုမိန့်အားလည်းကောင်း၊ ဦးအောင်စိုးအမည်ဖြင့် ရေလုပ်ငန်းနှင့် ဆိုင်သောလုပ်ငန်း အသုံးပြုရန် မြေနေရာအတွက် လယ်ယာမြေအား အခြားနည်း ဖြင့် အသုံးပြုရန် ခွင့်ပြုမိန့် ရရှိထားပြီး ဦးအောင်စိုးမှ Hein AKK Co., Ltd. သို့ ရောင်းချထားသည့် နှစ်ဦးသဘောတူ မြေကွက်အရောင်းအဝယ် စာချုပ်နှင့် ဦးအောင်စိုးမှ ဦးကျော်သိန်းစိုး (Hein AKK Co., Ltd.) သို့ အထူးကိုယ်စားလှယ် လွှဲအပ်ထားသည့် စာအားလည်းကောင်း တင်ပြထားပါသည်။

၃။ မြေအသုံးပြုခွင့်ရရှိသူ Hein AKK Co., Ltd. နှင့် Hein AKK International Co., Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)၊ ဖက်စပ်စာချုပ် (မူကြမ်း)၊ တည်နေရာပြ မြေပုံ၊ အဆောက်အဦ Layout Planနှင့် Jetty Layout Plan တို့ကိုတင်ပြထားပါသည်။

၄။ မြေငှားသက်တမ်းမှာ ကနဦး ၁၅ နှစ် ဖြစ်ပါသည်။ မြေငှားရမ်းခမှာ တစ်နှစ် တစ်ဧကလျှင် ကျပ် ၁၂၀,၀၀၀,၀၀၀ နှုန်းဖြင့် စုစုပေါင်း ၃.၈၅ ဧကအတွက် ကျပ် ၄၆,၂၀၀,၀၀၀ ဖြစ်ပါသည်။

၅။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် နှင့် ၆ လ ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၆။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၆ သန်း ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုအား အောက်ပါအတိုင်းထည့်ဝင်ထားပါသည်-

| | | ပြည်ပ (US$/သန်း) | ပြည်တွင်း (US$/သန်း) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၀.၂၀၈ | ၀.၆၉၀ | ၀.၈၉၈ |
| (ခ) | စက်ပစ္စည်း ကိရိယာ | | ၁.၁၄၇ | ၁.၁၄၇ |
| (ဂ) | မြေငှားရမ်းခ | | ၀.၄၅၂ | ၀.၄၅၂ |
| (ဃ) | ဆိပ်ခံတံတားနှင့်အဆောက်အအုံ ဆောက်လုပ်မှု ကုန်ကျစရိတ် | | ၀.၆၅၃ | ၀.၆၅၃ |
| (င) | ပရိဘောဂနှင့် လုပ်ငန်းများ ပစ္စည်း တန်ဖိုး | | ၀.၃၅၈ | ၀.၃၅၈ |
| (စ) | အခြား | ၂.၄၉၂ | | ၂.၄၉၂ |
| | **စုစုပေါင်း** | ၂.၇၀၀ | ၃.၃၀၀ | ၆.၀၀၀ |

၇။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၅၆)ဦး ခန့်ထားမည်ဖြစ်ပြီး ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်းမှ ငါးများအား ပြည်ပသို့ ၁၀၀% တင်ပို့မည် ဖြစ်ပြီး ရေခဲတုံးများအား ပြည်တွင်းရှိ ငါးဖမ်းစက်လှေများသို့ ရောင်းချသွားမည်ဖြစ်ပါသည်။ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **စဉ်** | **အမျိုးအစား** | **အရေအတွက်** | **ရောင်းချမည့် ဈေးနှုန်း** |
|---|---|---|---|
| (က) | ငါးရွှေ | ၅၀,၀၀၀ (kg) | ၂,၇၅၀ (ကျပ်/ kg) |
| (ခ) | ငါးပုလွေ | ၅၀,၀၀၀ (kg) | ၁,၂၁၀ (ကျပ်/ kg) |
| (ဂ) | ငါးတံခွန် | ၅၀,၀၀၀ (kg) | ၂,၂၀၀ (ကျပ်/ kg) |
| (ဃ) | ငါးဖျက် (ခေါင်းပွ) | ၅၀,၀၀၀ (kg) | ၁,၉၂၅ (ကျပ်/ kg) |
| (င) | ငါးဖျက် | ၅၀,၀၀၀ (kg) | ၁,၄၈၅ (ကျပ်/ kg) |
| (စ) | ငါးနီ | ၅၀,၀၀၀ (kg) | ၁,၄၃၀ (ကျပ်/ kg) |
| (ဆ) | ငါးခွေးလျှာ | ၅၀,၀၀၀ (kg) | ၁,၃၇၅ (ကျပ်/ kg) |
| (ဇ) | Ice Block(lbs) | ၂၃၄,၀၀၀,၀၉၀ (lb) | ၁၂.၇၅ (ကျပ်/ lb) |

၉။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ သက်ဆိုင်ရာဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားထားပါသည်-

(က) **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ** အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။ နောက်ဆက်တွဲ (က)

(ခ) ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination – IEE) ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာ ရေးသားတင်ပြရန်နှင့် ဝန်ကြီးဌာနမှ လိုအပ်ပါက ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment- EIA)ကို ရေးဆွဲဆောင်ရွက်ရမည် ဖြစ်ကြောင်းပြန်ကြားလာပါသည်။

နောက်ဆက်တွဲ (ခ)

၁၀။ ငွေကြေးအထောက်အထားအဖြစ် ရောဝတီဘဏ်တွင် ဦးကျော်သိန်းစိုး၊ ဦးအောင်စိုး၊ Mr. Sittipong Haimruangngernနှင့် Hein AKK International Co., Ltd. အမည်များဖြင့် ၆-၃-၂၀၂၀ ရက်နေ့ အထိ အမေရိကန် ဒေါ်လာ ၁,၀၀၀,၀၉၈.၅၀ ကိုလည်းကောင်း၊ Haimruang-ngern Sea Port Co., Ltd. အမည်ဖြင့် ၃၁-၁၂-၂၀၁၈ ရက်နေ့တွင် စာရင်းပိတ်လက်ကျန် ထိုင်းဘတ် ၃၅,၅၀၈,၄၇၃ ရှိကြောင်း Financial Statement ကိုလည်းကောင်း တင်ပြထားပါသည်။

၁၁။ ဝင်ငွေခွန် ထမ်းဆောင်မည့် အစီအစဉ်၊ ရေရယူမည့် အစီအစဉ်၊ လျှပ်စစ်ဓါတ်အား အသုံးပြုမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် CSR Project တို့ကိုတင်ပြ ထားပါသည်။

၁၂။ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်၊ ယောကြီးဝချောင်းအတွင်း ဆိပ်ခံတံတား (၁) စင်း တည်ဆောက်ခွင့် ပြုပါရန် ဦးအောင်စိုးမှ လျှောက်ထားလာခြင်းအား (၅-၄-၂၀၁၉) ရက်နေ့တွင် ကျင်းပပြုလုပ်သော ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေး အမှတ်စဉ် (၅/၂၀၁၉)တွင် အတည်ပြုပြီးဖြစ်ပါ သဖြင့် ရေအရင်းအမြစ်နှင့် မြစ်ချောင်းများ ထိန်းသိမ်းရေး ဥပဒေအရ ပေးအပ်ထားသောအခွင့်အာဏာကျင့်သုံး၍ သတ်မှတ် အခွန်အခများ ပေးသွင်းရန် ရေအရင်းအမြစ်နှင့် မြစ်ချောင်းများ ဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန၊ နေပြည်တော် မှ တနင်္သာရီတိုင်း ဒေသကြီးဦးစီးမှူးသို့ အကြောင်းကြားစာနှင့် ဦးအောင်စိုးမှ အခွန်အခများ ပေးဆောင်ပြီး ကြောင်း တင်ပြထားသည့် စာအား တင်ပြထားပါသည်။

၁၃။ ၂၀၂၀ ခုနှစ် မတ်လ ၂၃ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၁၁/၂၀၁၉ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 1020 တွင် အကျုံးဝင်ပါသည်။

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Hein AKK International Co., Ltd. မှ ပင်လယ်ငါးများအား အေးခဲ၍ ပြည်ပသို့ ၁၀၀ % တင်ပို့ခြင်းနှင့် ရေခဲထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ (က)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့
## ထားဝယ်မြို့

စာအမှတ်၊ ၅၅၂၂ /၄၀၀(၁)/၉-၁/အဖရ(တနင်္သာရီ)

ရက် စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ မေလ ၂၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့၏(၂၆.၃.၂၀၂၀)ရက်စွဲပါစာအမှတ်၊ မရက- ၂/ ခ-၀၆၉/၂၀၂၀(၀၉၀)

၁။ မြန်မာနိုင်ငံရှိ Hein AKK International Co., Ltd မှ (၅၅%)နှင့် ထိုင်းနိုင်ငံရှိ Haimruang - ngern Sea Port Co., Ltd မှ (၄၅%)အစုရှယ်ယာထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် Hein AKK International Co., Ltd မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြိတ်မြို့နယ်၊ ကလွင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၁/OSS)၊ ကလွင် ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ်(၅၇၊ ၅၈)ရှိ မြေဧရိယာ(၅.၉၁)ဧက အနက်မှ မြေဧရိယာ(၃.၈၅)ဧကအား ငှားရမ်း၍ ပင်လယ်ငါးများအားအေးခဲ၍ပြည်ပသို့ ၁၀၀% တင်ပို့ခြင်းနှင့် ရေခဲထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၄၉ အရ ခွင့်ပြုမိန့်အား ရက်ပေါင်း (၆၀)အတွင်း ထုတ်ပေးရမည်ဖြစ်၍ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၂၅-၅-၂၀၂၀ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်( ၇/၂၀၂၀ )၊ ဆုံးဖြတ်ချက်အပိုဒ်(၂၁)အရ "ကန့်ကွက်ရန်မရှိကြောင်း" ဆုံးဖြတ်ခဲ့သဖြင့် လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်နိုင်ရန် သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်( )

( မြင့်စန်း၊ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီး )

မိတ္တူကို

လက်ခံစာတွဲ

မျှောစာတွဲ

နောက်ဆက်တွဲ (ခ)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ဝဝ၁/ MIC (OSS)/ ဝ၁ (၂၄/၂ဝ၂ဝ)
ရက်စွဲ၊ ၂ဝ၂ဝ ပြည့်နှစ်၊ ဧပြီလ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Hein AKK International Co., Ltd. မှ ပင်လယ်ငါးများအားအေးခဲ၍ပြည်ပသို့ရာခိုင်နှုန်းပြည့်တင်ပို့ခြင်းနှင့် ရေခဲထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆-၃-၂ဝ၂ဝ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-ဝ၆၉/ ၂ဝ၂ဝ(ဝ၈၇)

၁။ မြန်မာနိုင်ငံရှိ Hein AKK Co., Ltd. မှ (၅၅%) နှင့် ထိုင်းနိုင်ငံရှိ Haimruangngern Sea Port Co., Ltd. မှ (၄၅%)၊ အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် Hein AKK International Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်- ၅၇၊ ၅၈ ကွင်းအမှတ်- ၁(OSS) ကလွင်ကြေးတိုင်ပြင်ကွင်း၊ ကလွင်ကျေးရွာအုပ်စု၊ မြိတ်မြို့နယ်၊ မြိတ်ခရိုင်၊ တနင်္သာရီတိုင်းဒေသကြီးရှိ စုစုပေါင်းမြေ ၅.၉၁ ဧကအနက်မှ ၃.၈၅ ဧက(၁၅,၅၈ဝ.၄ဝ စတုရန်းမီတာ)ကို ငှားရမ်း၍ ပင်လယ်ငါးများ အေးခဲ၍ ပြည်ပသို့ရာခိုင်နှုန်း ပြည့်တင်ပို့ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကိုလေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅ဝ) နှစ်ပြီး၊ သက်တမ်းတိုး (၁ဝ) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၂) နှစ်ခွဲခန့်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေဧရိယာ (၁၅,၅၈ဝ.၄ဝ စတုရန်းမီတာ) တွင် (၃၆,၅၃၄ စတုရန်းပေ) ရှိရေခဲစက်၊ ပင်လယ်ငါးများအေးခဲထုပ်ပိုးမည့်အလုပ်ရုံနှင့် ဆက်စပ်အဆောက်အဦများ၊(အလျား၂၉၇ပေxအနံ၁၁၄ပေ)ရှိ ဆိပ်ခံတံတားတစ်စင်း တည်ဆောက်ကာလုပ်ငန်းများဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မှုအနေဖြင့်ရေခဲတစ်ရက်လျှင်တန် (၅ဝဝ) ကျော်နှင့် အေးခဲပြီးပင်လယ်ငါးတစ်နှစ်လျှင်တန် (၅ဝဝ) ကျော်ထုတ်လုပ်ကာ ပြည်ပနိုင်ငံများသို့ ရာနှုန်းပြည့်တင်ပို့ ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းမှ နှစ်စဉ်ရေဂါလံပေါင်း (၃၉) သန်းကျော် အသုံးပြုကာလုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပြီး လိုအပ်သောရေအား မြေအောက်ရေနှင့် မြိတ်ရေပေးဝေရေးလုပ်ငန်းမှဝယ်ယူအသုံးပြုသွားမည် ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများသက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကိုလိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ် ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Hein AKK International Co., Ltd. မှ ပင်လယ်ငါးများအားအေးခဲ၍ ပြည်ပသို့ရာခိုင်နှုန်းပြည့်တင်ပို့ခြင်းနှင့် ရေခဲထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေပြုပြင်ခြင်းနှင့် တည်ဆောက်/ ပြုပြင်ရေးလုပ်ငန်းများ ဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ လုပ်ငန်းသုံး ယာဉ်/ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) တည်ဆောက်လုပ်ငန်းသုံးယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ရာတွင် လိုအပ်သည့် ရေအားစနစ်တကျ ထုတ်ယူသုံးစွဲမှုမရှိခြင်းကြောင့် မြေအောက်ရေ အရည်အသွေးနှင့် မျက်နှာပြင်နိမ့်ကျခြင်း၊ ပင်လယ်ရေထွက်ကုန်ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းမှ အအေးခန်းစက်ရုံတွင် Processing Washing & Peeling Room များ၌ ရေများအသုံးပြု ဆောင်ရွက်မည်ဖြစ်ရာ အဆိုပါရေများကြောင့် ပတ်ဝန်းကျင်ရေထုညစ်ညမ်းနိုင်ခြင်း၊ စက်ရုံမှထွက်ရှိလာမည့် ငါး/ပုစွန် အစရှိသည့် အခွံများ၊ အစအနများကိုစနစ်တကျ စွန့်ပစ်ခြင်းမပြုပါက ပတ်ဝန်းကျင် မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊ ငါး/ ပုစွန်စသည်တို့ကို သိုလှောင်ခြင်းနှင့် စွန့်ပစ်ပစ္စည်းများမှ အနံ့အသက်များကြောင့် ပတ်ဝန်းကျင်လေထုညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ထိခိုက်မှုများနှင့် ကျန်းမာရေးဆိုင်ရာ ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Hein AKK International Co., Ltd. မှ ပင်လယ်ငါးများအားအေးခဲ၍ ပြည်ပသို့ရာခိုင်နှုန်းပြည့်တင်ပို့ခြင်းနှင့် ရေခဲထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာ ရေးသားတင်ပြရန်နှင့် ဝန်ကြီးဌာနမှ လိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) ကို ရေးဆွဲ ဆောင်ရွက်ရန်၊

(ဂ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီစဉ်များ၊ အစီရင်ခံစာများ ရေးသားပြုစုရာတွင်ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီလိုက်နာ ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

၈/၇/၂၀၂၀

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
တာဝန်ခံအရာရှိ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ တနင်္သာရီတိုင်းဒေသကြီး
ရုံးလက်ခံ